# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ – ၀၂၉/၉၆ ၁၉၉၆ ခုနှစ်၊ ဇူလိုင် လ ၂၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး ဝင်း သိန်း

(ခ) အဘအမည် ဦး စံ ရင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ ဗဟန (နိုင်) ၀၃၇၁၇၄

(ဃ) နေရပ်လိပ်စာ အမှတ် (၄၁)၊ မြေ့ဘင်း မြလမ်း ၊
စမ်း ချောင်း မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း
ဇီဇဝါကုမ္ပဏီလီမိတက်

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား
သစ်အခြေခံကုန်ချောများ ထုတ်လုပ်ဖြန့်ဖြူးခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ဦးပိုင်အမှတ်၊ ၇၅/၁၃၊ ၇၆၊ ၇၇
ကွင်းအမှတ် ၅၇၄၊ ရွာသစ်ကွင်း၊ တပ်ကြီး ကုန်း ကျေး ရွာအုပ်စု၊
မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်း ။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၁၂.၅သန်း (ကျပ်တစ်ဆယ့်နှစ်သန်းနှင့်ငါးသိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၃/၉၆

ရန်ကုန်မြို့၊ ၁၃၅၈ ခုနှစ်၊ ဒုတိယဝါဆိုလဆန်း ၇ ရက်

(၁၉၉၆ ခုနှစ်၊ ဇူလိုင် လ ၂၂ ရက်)

၁။ ဗီဇာဝါကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ တင်ကြီးကုန်းကျေးရွာအုပ်စု၊ ရွာသစ်ကွင်း၊ ကွင်းအမှတ်-၅၀၄ ရှိ ကုမ္ပဏီပိုင်မြေနေရာတွင် သစ်အချောထည်စက်ရုံတည်ဆောက်ပြီး ကမ္ဘာ့အဆင့်အတန်းမီ သစ်အခြေခံကုန်ချောများ ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြချက်အား (၁၀-၅-၉၆) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇/၉၆) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၁၇-၆-၉၆) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၂၂/၉၆) ကြိမ်မြောက်အစည်းအဝေးသို့ ဒုတိယဝန်ကြီးချုပ်ရုံးမှ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း ၅၊ ပုဒ်မ-၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံး၍ ဗီဇာဝါကုမ္ပဏီလီမိတက်အား အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၀၂၉/၉၆ ကို ထုတ်ပေးလိုက်သည်။

၂။ ဗီဇာဝါကုမ္ပဏီလီမိတက်အနေဖြင့် ဤခွင့်ပြုမိန့်အရ သစ်အခြေခံကုန်ချောများ ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ၊ အခန်း (၇)၊ ပုဒ်မ-၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ-၁၃ ပါပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ-၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်

ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက်ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြား ငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျှက်လုပ်ငန်း အကောင်အထည်ဖော်မှုအခြေအနေ ပေါ် မူတည်၍ ကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ-၁၃(ခ)အရလုပ်ငန်း မှနိုင်ငံခြား ငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ်တွင်(၅၀)ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့်ဝင်ငွေခွန်သက်သာခွင့်ကိုခံစားနိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်(၃)နှစ်ခံစားပြီး နောက်လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျှက်၍ ကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ-၁၃(ဂ)အရကုန်ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်း အထိပြည့်ကွင်း၊ ပြည်ပဝင်ငွေတိုး တက်မှုရှိပါကသတ်မှတ်ချက်နှင့်အညီဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံး ပြီး သည့်အခါလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျှက်၍ ကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ-၁၃(စ)အရလုပ်ငန်း မှရရှိသည့်အမြတ်ငွေကိုသီး သန့်ရန်ပုံငွေထား၍တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်း နှီး မြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင်ဝင် ငွေခွန်ကင်း လွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်ရရှိရန်အတွက်ဝင်ငွေခွန်ကင်း လွတ်ခွင့်ကာလကုန်ဆုံး ပြီး သည့်အခါလုပ်ငန်းအကောင်အထည် ဖော်မှုအခြေအနေကို ဖော်ပြလျှက် ကော်မရှင်သို့တင်ပြ လျှောက်ထား ရမည်။

(င) ဥပဒေပုဒ်မ-၁၃(ဆ)အရလုပ်ငန်း သုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုး လျော့ငွေကိုသတ်မှတ်သည့်နှုန်း အတိုင်း နှစ် တိုကိုနှင့်မူလတန်ဖိုး ပြည့်မီသည်အထိအမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ယင်း တန်ဖိုး လျော့နှုန်း ထား များ ကို ကော်မရှင်သို့တင်ပြ လျှောက်ထား ရမည်။

(စ) ဥပဒေပုဒ်မ-၁၃(ဇ)အရကနဦး ရင်း နှီး မြှုပ်နှံမှုကာလ အတွင်း ပြည်တွင်း ၌မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ပြည်ပ မှတင်သွင်း သောစက်ပစ္စည်း ၊ စက်အရန်ပစ္စည်း ၊ စက်ကိရိယာအစိတ်အပိုင်း ၊ လုပ်ငန်း သုံး ပစ္စည်း များ အပေါ် အကောက်ခွန်နှင့်အခြား ပြည်တွင်း အခွန်အကောက်များကင်း

လွှတ်ခွင့်နှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ရရှိပြီးသည့်နောက်ပိုင်း တင်သွင်းသည့်လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် သာကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ-၁၃(ဈ)အရသတ်မှတ်ထားသည့်ကနဦးရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွင်း ပြည်ပမှတင်သွင်းသည့်လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကင်းလွတ်ခွင့်နှင့်စပ်လျဉ်း၍ ကော်မရှင်မှခွင့်ပြုမိန့်ရပြီးနောက်ပိုင်း တင်သွင်းမှုအပေါ်တွင်သာကင်းလွတ်ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ-၁၃(ည)အရပြည်ပသို့တင်ပို့ရန်ထုတ်လုပ်သည့်ပစ္စည်းများအပေါ်ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်သို့မဟုတ်သက်သာခွင့်နှင့်ပတ်သက်၍အခြားအလားတူခွင့်ပြုပြီး သစ်အခြေခံပစ္စည်းများ ပြည်ပရောင်းချမှုအပေါ်တွင်ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ပြုသည့်နည်းတူခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ-၁၃(ဇ)အရပြည်ပမှတင်သွင်းသည့်စက်ပစ္စည်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်းလိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေရရှိပုံနည်းလမ်း (Source of Payments for Import ) ဥပမာ-ပြည်ပတင်ပို့မှုမှဝင်ငွေ၊ ပြည်ပချေးငွေ ( Loan and Credits )၊ ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ် ( Buy-back System ) စသည်တို့ကိုဖော်ပြရန်။

(ခ) တင်သွင်းမည့်ပစ္စည်းအမျိုးအစားစာရင်း(Invoice and Packing List ) များကိုနိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်သို့တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ ရင်းနှီးမြှုပ်နှံသူအနေဖြင့် မြေအသုံးပြုမှုနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းထားသည့်စည်းကမ်းသတ်မှတ်ချက်များကိုတိကျစွာလိုက်နာဆောင်ရွက်ရမည်။

၅။ ဇီဇဝါကုမ္ပဏီလီမိတက်သည်၎င်းခွင့်ပြုမိန့်အရသစ်အခြေခံကုန်ချောများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာ၌ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှုစသည်များ မဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့်

ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ရေး အစီအမံများကို စနစ်တကျထား ရှိဆောင်ရွက်ရမည်။

---

၆။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့်နေ့ရက်ကို ကော်မရှင် သို့ အမြန်ဆုံး အစီရင်ခံရမည်။

၇။ ဤခွင့်ပြုမိန့်ထုတ်ပေးသည့်နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်အကောင်အထည်ဖော်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

အမိန့်အရ -

(ဗိုလ်မှူးချုပ် မောင်မောင်)
အတွင်းရေးမှူး
(ဝန်ကြီး၊ ဒုတိယဝန်ကြီးချုပ်ရုံး)

စာအမှတ်၊ ၇က-၁/မ-၀၄၅/၉၆(၀၅၀၈ )
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဇူလိုင်လ ၂၂ ရက်။

ဖြန့်ဝေခြင်း။

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ဒုတိယဝန်ကြီးချုပ်ရုံး။
၅။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။
၆။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။
၇။ ကုန်သွယ်ရေးဝန်ကြီးဌာန။
၈။ သစ်တောရေးရာဝန်ကြီးဌာန။
၉။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။
၁၀။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။
၁၁။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်။
(ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်းနှင့်ဂဏ်ဆေးရေး ဦးစီးဌာန)

၁၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန။
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။
၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။
၁၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။
၁၉။ ဦးဝင်းသိန်း၊ အုပ်ချုပ်မှုဒါရိုက်တာ၊
ဇီဇဝါကုမ္ပဏီလီမိတက်။

အမိန့်အရ–

(မောင်မောင်ရီ)
တွဲဖက်အတွင်းရေးမှူး



* အေး * ၁၀-၇-၉၆